# (၇) ရတနာသိင်္ဂီစက်မှုလုပ်ငန်းကုမ္ပဏီလီမိတက် (၁)

| | | |
|---|---|---|
| MIC ခွင့်ပြုမိန့်ရရှိသောနေ့ | - | ၂၇-၁၂-၂၀၀၀ ရက်နေ့ (မနသ- ၅၂၇/၂၀၀၁) |
| ခွင့်ပြုသက်တမ်း | - | (၂၅)နှစ် (၂၇-၁၂-၂၀၀၁) မှ (၂၇-၁၂-၂၀၂၆)ထိ |
| ငှားရမ်းမြေဧရိယာ | - | မြေဧရိယာ(၁.၆၈)ဧက၊ |
| ငှားရမ်းခနှုန်း | - | ၁စတုရန်းမီတာလျှင် ၄၅၀ကျပ် နှုန်း၊ (၅)နှစ်တစ်ကြိမ် (၁၅%)တိုး |
| ရင်းနှီးမြှုပ်နှံမှုပမာဏ | - | (၂၀၀၀)ခုနှစ်မူလရင်းနှီးငွေ(၄၇၀.၈၉)သန်းဖြင့် တန်(၅၀၀)ဆန့်အအေးခန်းလုပ်ငန်းစတင်ဆောင်ရွက် |
| စာချုပ်ချုပ်ဆိုသည့်နေ့ | - | (၃၁-၁၀-၂၀၀၃ )ရက်နေ့ တွင် ပထမအကြိမ် |
| | - | (၃၁-၁၀-၂၀၀၈)ရက်နေ့ တွင် ဒုတိယအကြိမ် |
| | - | (၃၁-၁၀-၂၀၁၃)ရက်နေ့တွင် တတိယအကြိမ် |
| စာချုပ်အသစ်ပြန်လည်ချုပ်ဆိုရမည့်နေ့ | - | (၃၁-၁၀-၂၀၁၈) ရက်နေ့တွင် စာချုပ်အသစ် ချုပ်ရန် |
| လုပ်ငန်းအမျိုးအစား | - | ရေခဲစက်ရုံတည်ဆောက်၍ ငါး/ပုစွန်ပြုပြင် ထုတ်လုပ်ခြင်း လုပ်ငန်း |

# (၇) ရတနာသိဂီစက်မှုလုပ်ငန်းကုမ္ပဏီလီမိတက် (၂)

- လုပ်ငန်းတိုးချဲ့ခြင်း - မြေဧရိယာ(၄.၆၆)ဧက အား မြန်မာဘောဂျင်းဖက်စပ်ကုမ္ပဏီမှ (၁-၁၁-၂၀၀၉)ရက်နေ့တွင် ဝယ်ယူ၍ ထပ်မံလုပ်ငန်းတိုးချဲ့ခဲ့ ပါသည်။
- MIC ခွင့်ပြုမိန့်ရရှိသောနေ့ - ၂၇-၁၂-၂၀၀၀ ရက်နေ့ (မနသ-၅၂၇/၂၀၀၁)
- ခွင့်ပြုသက်တမ်း - ကနဦး (၃၀)နှစ် (၂၇-၁၂-၂၀၀၀) မှ (၂၇-၁၂-၂၀၃၀) ထိ
- ငှားရမ်းမြေဧရိယာ - မြေဧရိယာ(၄.၆၆)ဧက ၊ ( ၂၁၄၁၈ စတုရန်းမီတာ )
- ငှားရမ်းခနှုန်း - မြေ(၁၈၈၀၉-စတုရန်းမီတာ) (၁စတုရန်းမီတာလျှင် ၄၅၀၀ကျပ် နှုန်း)
- အဆောက်အဦ (၂၆၀၉ - စတုရန်းမီတာ)( ၁ စတုရန်းမီတာလျှင်
- ၉၅၀၀ကျပ်နှုန်း)
- စာချုပ်ချုပ်ဆိုသည့်နေ့ - (၁-၁၁-၂၀၀၉ )ရက်နေ့ (ပ) ကြိမ်
- ရင်းနှီးမြှုပ်နှံမှုပမာဏ - ရင်းနှီးငွေ ((၁၄၇၀.၈၉၆)သန်း ရင်းနှီးမြှုပ်နှံ၍ တန်( ၄၅၀၀)ဆန့် အအေးခန်းသို့ တိုးမြှင့်ခြင်း (၂၀၁၅)ခုနှစ်
- အဆိုပြုတင်ပြချက် - မြေ(၁)ဧက ထပ်မံငှားရမ်း၍ ရင်းနှီးမြှုပ်နှံမှု ထပ်မံတိုးချဲ့ရန် တင်ပြ ထားပါသည်။
- ဌာနမှ ဆောင်ရွက်ရန် - (၁)။ မြေ(၁)ဧက ထပ်မံငှားရမ်းခွင့်အား စိုက်/ မွေး/ ဆည်ဝန်ကြီး ဌာန၊ မြေယာငှားရမ်းခြင်းကော်မတီသို့ တင်ပြ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြဆောင် ရွက်ရန် ဖြစ်ပါသည်။
- - (၂)။ ၂၀၀၉ခုနှစ်မှ စတင်၍ ငှားရမ်းခငွေများအား MICB ဘဏ်ရှိ မြန်မာဘောဂျင်းဖက်စပ်ကုမ္ပဏီ၏ ငွေစာရင်း အမှတ် DKM 41-0254 တွင် ခေတ္တအပ်နှံထားရှိခြင်းမှ ငါးလုပ်ငန်းငွေစာရင်းအမှတ် MD 012144 သို့ လွှဲပြောင်းပေးရန် မြန်မာဘောဂျင်းဖက်စပ်ကုမ္ပဏီ စာရင်းရှင်းလင်းဖျက်သိမ်းရေးအရာရှိထံ အကြောင်းကြားစာ ထုတ်ပြန် ရမည်ဖြစ်ပါသည်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
ရုံးအမှတ်(၃၂)၊ နေပြည်တော်

Fax:95-67-406333 ဖုန်း၊၀၆၇- ၄၀၆၀၇၅၊၄၀၆၃၃၄

စာအမှတ်၊ရကာ-၇(ခ)/မ-၁၃၄၉/၂၀၀၈(၁၄၃၆)၊ ၈
ရက်စွဲ၊ ၂၀၀၈ ခုနှစ်၊ ဒီဇင်ဘာလ( ၂၉ ) ရက်။

အကြောင်းအရာ။ ။ <u>ရတနာသိဂီစက်မှု လုပ်ငန်းကုမ္ပဏီ လီမိတက်မှ ငှားရမ်းဆောင်ရွက်လျက်ရှိသောငါးလုပ်ငန်းဦးစီးဌာနပိုင် အအေးခန်းစက်ရုံ တိုးချဲ့ခွင့်နှင့် ရင်းနှီးမြှုပ်နှံမှုငွေပမာဏ တိုးမြှင့် ဆောင်ရွက်ခွင့်ပြုပါရန် မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာနမှ တင်ပြလာခြင်းကိစ္စ။</u>

ရည် ညွှန်း ချက်။ မွေးမြူရေးနှင့် ရေလုပ်ငန်းဝန်ကြီးဌာန ဝန်ကြီးရုံး၏ (၁၈-၉-၂၀၀၈) နေ့စွဲပါစာအမှတ် ၁/၂၀၀(ည)/၅၁၀၀/၁/(၈၄၀/၂၀၀၈)။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့် စပ်လျဉ်း၍ ရတနာသိဂီစက်မှု လုပ်ငန်းကုမ္ပဏီ လီမိတက်မှ ရည်ညွှန်းပါစာဖြင့် တင်ပြခြင်းကို (၁၀-၁၂-၂၀၀၈)နေ့တွင် ကျင်းပသော ကော်မရှင်၏ (၃၈/၂၀၀၈) အစည်းအဝေး၌ တင်ပြခဲ့ပါသည်။

၂။ ယင်းအစည်းအဝေးမှ ရန်ကုန်တိုင်း၊ အင်းစိန်မြို့နယ်၊ အနောက်ကြို့ကုန်းရှိ ငါးလုပ်ငန်းဦးစီးဌာနပိုင် မြေနှင့်အဆောက်အဦးကို ငှားရမ်းဆောင်ရွက်လျက်ရှိသော ရတနာသိဂီစက်မှု လုပ်ငန်းကုမ္ပဏီ လီမိတက်၏ အအေးခန်းစက်ရုံ တိုးချဲ့ခွင့်နှင့် ရင်းနှီးမြှုပ်နှံမှု ပမာဏ မူလကျပ် (၈၀၀)သိန်းမှ ယခုအခါ US$ (၁.၀၃)သိန်းအပါအဝင် ကျပ် (၄၇၀၈.၉၆) သိန်းသို့ တိုးမြှင့်ဆောင်ရွက်ခွင့်ပြုရန် ဆုံးဖြတ်ပါသည်။

၃။ အထက်ပါ အချက်အား ပြင်ဆင်ပေးနိုင်ပါရန် ကော်မရှင် ခွင့်ပြုမိန့် (မူရင်း)ကို ဤရုံးသို့ ပေးပို့ပါရန် အကြောင်းကြားအပ်ပါသည်။

သူရိန်ဇော်

ဥက္ကဋ္ဌ(ကိုယ်စား)
( ဗိုလ်မှူးကြီးသူရိန်ဇော်၊အတွင်းရေးမှူး)

<u>ဝန်ကြီးရုံး</u>
<u>မွေးမြူရေးနှင့် ရေလုပ်ငန်းဝန်ကြီးဌာန</u>

YadanarTheingi Admin

မိတ္တူ -

(၁) ညွှန်ကြားရေးမှူးချုပ်၊
ငါးလုပ်ငန်းဦးစီးဌာန။

(၂) အုပ်ချုပ်မှုဒါရိုက်တာ
ရတနာသိင်္ဂီစက်မှု လုပ်ငန်းကုမ္ပဏီ လီမိတက်။

(၃) ရုံးလက်ခံ/မျှောစာတွဲ

ရှုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ မတ် လ ၃၁ ရက်

အကြောင်းအရာ။ **Yadanar Theingi Industrial Co., Ltd.၏ အအေးခန်း စက်ရုံ တိုးချဲ့ရန်နှင့် ရင်းနှီးမြှုပ်နှံမှုငွေပမာဏ တိုးမြှင့်ဆောင်ရွက်ခွင့်ပြုနိုင်ပါရန် မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဒေသ ဖွံ့ဖြိုးရေး ဝန်ကြီးဌာနမှ တစ်ဆင့် တင်ပြခြင်း ကိစ္စ**

၁။ Yadanar Theingi Industrial Co.,Ltd. သည် ငါးလုပ်ငန်းဦးစီးဌာနပိုင်မြေ၊ အမှတ်(၉)၊ဘုရင့်နောင်လမ်း၊မ၊အနောက်ကြို့ကုန်းရပ်ကွက်၊ အင်းစိန်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး တွင် ရေထွက်ပစ္စည်း ပြုပြင်အေးခဲခြင်းနှင့် ရေခဲစက်ရုံလုပ်ငန်း ဆောင်ရွက်ရန် ကော်မရှင် ၏ ၂၀၀၀ ပြည့်နှစ် ဒီဇင်ဘာလ ၂၇ ရက်နေ့ ရက်စွဲပါ ခွင့်ပြုမိန့်အမှတ် မနသ- ၅၂၇/၂၀၀၀ ကို ရရှိခဲ့ပါသည်။

၂။ ကုမ္ပဏီ၏ မူလရင်းနှီးမြှုပ်နှံမှုပမာဏမှာ ကျပ် ၈၀.၀၀ သန်း ဖြစ်ပါသည်။ ကော်မရှင်၏ ၂၀၀၈ ခုနှစ် ဒီဇင်ဘာလ ၁၀ ရက်နေ့တွင် ကျင်းပသော (၁၈/၂၀၀၈) အစည်းအဝေးမှ ကျပ် ၈၀.၀၀ သန်းမှ အမေရိကန်ဒေါ်လာ ၀.၁၀၃ သန်း အပါအဝင် စုစုပေါင်း ကျပ် ၄၇၀.၈၉၆ သန်း သို့ တိုးမြှင့်ခွင့်ပြုခဲ့ပြီး ဖြစ်ပါသည်။အပြည့်အဝ ထည့်ဝင်ပြီး ဖြစ်ပါသည်။

၃။ ရတနာသိင်္ဂီစက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်သည် ရေထွက်ပစ္စည်း ထုတ်လုပ်မှုလုပ်ငန်းများကို တိုးမြှင့်လိုပါသဖြင့် အအေးခန်းစက်ရုံဝင်းအတွင်း၌ပင် မူလတန် (၅၀၀)ဆန့် အအေးခန်း စက်ရုံအား တန်(၄၅၀၀)ဆန့် အအေးခန်းစက်ရုံအဖြစ် ထပ်မံတိုးချဲ့ ဆောက်လုပ်ခွင့် ပြုပါရန်နှင့် မူလရင်းနှီးမြှုပ်နှံမှုပမာဏ အမေရိကန်ဒေါ်လာ ၀.၁၀၃ သန်း အပါအဝင် စုစုပေါင်း ကျပ် ၄၇၀.၈၉၆ သန်း မှ အမေရိကန်ဒေါ်လာ ၀.၅၀၁ သန်း အပါအဝင် စုစုပေါင်း ကျပ် ၁၀၀၀.၀၀ သန်း ထပ်မံ တိုးမြှင့်ပြီး အမေရိကန်ဒေါ်လာ ၀.၆၀၄ သန်း အပါအဝင် စုစုပေါင်း ကျပ် ၁၄၇၀.၈၉၆ သို့ တိုးမြှင့် ဆောင်ရွက်ခွင့်ပြုနိုင်ပါရန် မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဒေသ ဖွံ့ဖြိုးရေး ဝန်ကြီးဌာနမှ တဆင့် တင်ပြလာပါသည်။

၄။ ၂၀၁၅ ခုနှစ် မတ်လ ၁၂ ရက်နေ့တွင် ကျင်းပပြုလုပ်သော မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဒေသ ဖွံ့ဖြိုးရေး ဝန်ကြီးဌာန၊ အလုပ်အမှုဆောင်ကော်မတီ၏ (၁၆/၂၀၁၅)ကြိမ်မြောက် အစည်းအဝေးမှ ရတနာသိင်္ဂီ စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက်၏ မူလ ရင်းနှီးမြှုပ်နှံမှု ပမာဏ အမေရိကန် ဒေါ်လာ ၀.၁၀၃ သန်း အပါအဝင် စုစုပေါင်း ကျပ် ၄၇၀.၈၉၆ သန်း မှ အမေရိကန်ဒေါ်လာ ၀.၅၀၁ သန်း အပါအဝင် စုစုပေါင်း ကျပ် ၁၀၀၀.၀၀ သန်း ထပ်မံ တိုးမြှင့်ပြီး အမေရိကန်ဒေါ်လာ ၀.၆၀၄ သန်း အပါအဝင် စုစုပေါင်း ကျပ် ၁၄၇၀.၈၉၆ သို့ တိုးမြှင့် ဆောင်ရွက်ခွင့်ပြုနိုင်ပါရန် သဘောတူ ခွင့်ပြုခဲ့ပြီး ဖြစ်ပါသည်။

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

၅။ **စိစစ်တင်ပြချက်**

(က) ကုမ္ပဏီ၏ စီးပွားဖြစ်စတင်သည့်နေ့မှာ ၂၀၀၉ ခုနှစ် ဧပြီ လ ၁ ရက်နေ့ ဖြစ်ပါသည်။

(ခ) မူလတန် (၅၀၀)ဆန့် အအေးခန်း စက်ရုံဝင်း အတွင်းမှာပင် တန်(၄၅၀၀)ဆန့် အအေးခန်းစက်ရုံအဖြစ် တိုးချဲ့တည်ဆောက်မည် ဖြစ်ပါသဖြင့် မြေနေရာ လုံလောက်မှု ရှိကြောင်း စက်ရုံတည်ဆောက်မည့် အဆောက်အဦ၏ Layout Plan အား ပူးတွဲ ဖော်ပြထားပါသည်။

(ဂ) ကုမ္ပဏီမှ တိုးချဲ့ဆောက်လုပ်မည့် အအေးခန်းစက်ရုံအတွက် အသုံးပြုမည့် အအေးခန်း စက်နှင့် စက်ကိရိယာများကို စင်္ကာပူနိုင်ငံရှိ Yee Shin(s)Pte Ltd မှ ဝယ်ယူတင်သွင်းပြီးဖြစ်ကြောင်း အထောက်အထားများ တင်ပြထားပါသည်။

(ဃ) ကုမ္ပဏီမှ ငါးလုပ်ငန်းဦးစီးဌာနသို့ မြေနှင့် အဆောက်အဦ ငှားရမ်းခများကို အပြေအကြေပေးသွင်းပြီး ဖြစ်ပါကြောင်း နှင့် ၂၀၁၃-၂၀၁၄ စည်းကြပ်နှစ်အတွက် ဝင်ငွေခွန် ကျပ် ၃၄၀၇၀.၀၀ အား ပေးသွင်းပြီး ဖြစ်ကြောင်း တင်ပြထားပါသည်။

(င) လက်ရှိ ပြည်တွင်း ဝန်ထမ်း ၃၇၉ ဦး ဖြင့် လုပ်ငန်းလည်ပတ် ဆောင်ရွက်လျက် ပါသည်။

(စ) အအေးခန်းစက်ရုံ တိုးချဲ့တည်ဆောက်ခြင်းအားဖြင့် အအေးခန်းစက်ရုံလုပ်ငန်းမှ တိုးတက်ရရှိမည့် ဝင်ငွေမှာ တစ်နှစ်လျှင် ကျပ်သိန်း(၅၀၀၀)ခန့် ပိုမိုရရှိမည် ဖြစ်ပါကြောင်း၊ ငါးတန် (၃၀၀၀)နှင့် ပုစွန် တန်(၅၀၀)ခန့်နှစ်စဉ် ပြည်ပသို့ တင်ပို့ ရောင်းချနိုင်မည်ဖြစ်ပါကြောင်း၊ နိုင်ငံခြား တင်ပို့ကုန် တန်ဘိုး US$(40) သန်းခန့် တင်ပို့နိုင်ပြီး၊ ကုန်သွယ်ခွန်နှင့် ဝင်ငွေခွန်များလည်း ရရှိနိုင်မည် ဖြစ်ပါကြောင်း တင်ပြထားပါသည်။

(ဆ) မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း(၁၁)၊ ပုဒ်မ ၂၀ ပုဒ်မခွဲ(ည) တွင် "ကော်မရှင်၏ ခွင့်ပြုချက်ဖြင့် ရင်းနှီးမြှုပ်နှံမှုပမာဏတိုးမြှင့်ပြီး မူလ ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ တင်သွင်းသော ယာဥ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင်တန်ဆာပလာများ၊ စက်ကိရိယာအစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများ အပေါ်တွင် အကောက်ခွန်

ဖြစ်စေ၊ အခြားပြည်တွင်း အခွန်အကောက်များ ဖြစ်စေ နှစ်မျိုးလုံးကို ဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်" ဟု ဖော်ပြပါရှိပါသည်။

(ဇ) ယခင် အလားတူ Five Ocean Services Limited. မှ ရင်းနှီးမြှုပ်နှံမှု တိုးမြှင့်၍ ဆေးရုံလုပ်ငန်းတိုးချဲ့ခွင့်နှင့်ဆေးရုံလုပ်ငန်းသုံးပစ္စည်းများအား အခွန်အကောက် ကင်းလွတ်ခွင့်ဖြင့် တင်သွင်းခွင့်ပြုပါရန် တင်ပြလာခြင်း ကိစ္စနှင့် စပ်လျဉ်း၍ ၂၀၁၄ ခုနှစ် နိုဝင်ဘာလ ၂၈ ရက်နေ့တွင် ကျင်းပပြုလုပ်သော ကော်မရှင်၏ (၂၇/၂၀၁၄) ကြိမ်မြောက် အစည်းအဝေးမှ ခွင့်ပြုခဲ့သည့် ဖြစ်စဉ်ရှိခဲ့ပါသည်။

၅။ သို့ဖြစ်ပါ၍ Yadanar Theingi Industrial Co.,Ltd. မှ တင်ပြချက်များသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၂၀ ပုဒ်မခွဲ(ည)နှင့် အညီ တင်ပြလာခြင်းဖြစ်၍ အောက်ပါအတိုင်း ခွင့်ပြုပေးနိုင်ပါရန် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပမာဏအား အမေရိကန်ဒေါ်လာ ၀.၁၀၇ သန်း အပါအဝင် စုစုပေါင်း ကျပ် ၄၇၀.၈၉၆ သန်း မှ အမေရိကန်ဒေါ်လာ ၀.၆၁၄ သန်း အပါအဝင် စုစုပေါင်း ကျပ် ၁၄၇၀.၈၉၆ သို့ တိုးမြှင့်ခွင့်ပြုပါရန်။

(ခ) အအေးခန်းစက်ရုံဝင်းအတွင်း၌ မူလတန် (၅၀၀)ဆန့် အအေးခန်း စက်ရုံအား တန်(၄၅၀၀)ဆန့် အအေးခန်းစက်ရုံအဖြစ် ထပ်မံတိုးချဲ့ ဆောက်လုပ်ခွင့်ပြုပါရန်။

(မြသူဇာ)
တွဲဖက်အတွင်းရေးမှူး

ဥက္ကဋ္ဌ

ကော်မရှင်(၄၇/၂၀၀၉)အစည်းအဝေး

အကြောင်းအရာ။ ။ ရတနာသိဂီ စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်၏ စီးပွားဖြစ်စတင်သည့် ရက် အတည်ပြု ဆောင်ရွက်ပေးပါရန် တင်ပြခြင်းကိစ္စ။

၁။ ရတနာ သိဂီ စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်သည် အအေးခန်းနှင့် ရေခဲစက်ရုံ တည်ဆောက်ကာ ငါး၊ ပုဇွန် အမျိုးမျိုး ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ရန် ကော်မရှင်မှ ခွင့်ပြုမိန့် အမှတ်၊ မနသ-၅၂၇ / ၂၀၀၁ (၂၇၊ ၁၂၊ ၂၀၀၁) ရရှိခဲ့ပါသည်။

၂။ ကုမ္ပဏီသည် မူလက ရန်ကုန်တိုင်း ရွှေပြည်သာ စက်မှုဇုန်(၂)၊ မြေတိုင်းရပ်ကွက် အမှတ် (၁၂၃)တွင် အအေးခန်းနှင့် ရေခဲစက်ရုံ တည်ဆောက်မည် ဖြစ်ပါသည်။ အဆိုပါ မြေနေရာတွင်အအေးခန်းနှင့်ရေခဲစက်ရုံတည်ဆောက်ခြင်းများ ဆောင်ရွက်နိုင်ခြင်းမရှိကြောင်း တင်ပြပါသည်။ ထို့ကြောင့်ကုမ္ပဏီသည် မြေကွက်အမှတ်(၁၂၃)၊ မြေတိုင်းရပ်ကွက် အမှတ် (၃၉)၊ ရွှေပြည်သာစက်မှုဇုန်(၂)၊ရန်ကုန်တိုင်းမှ ငါးလုပ်ငန်းဦးစီးဌာနပိုင်မြေ၊ အမှတ်(၉) ဘုရင့်နောင်လမ်းမ၊ ရန်ကုန်တိုင်း၊ အင်းစိန်မြို့နယ်၊ အနောက်ကြို့ကုန်း ရပ်ကွက်သို့ ပြောင်းရွှေ့ခွင့်ကို ကော်မရှင်၏ (၃၈/၂၀၀၈) (၁၀-၁၂-၂၀၀၈) မှ ခွင့်ပြုခဲ့ပါသည်။

စိစစ်တင်ပြချက်

၃။ ရတနာသိဂီ စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်သည် စီးပွားဖြစ် စတင်သည့်နေ့ရက်ကို (၁-၄-၂၀၀၉) နေ့ဟု သတ်မှတ် တင်ပြလာခြင်းဖြစ်ပါသည်။ ကုမ္ပဏီ၏ မူလအဆိုပြုလွှာ တင်ပြချက်အရ တည်ဆောက်မှု ကာလသည် (၁)နှစ်ဖြစ်၍ စီးပွားဖြစ် စတင်သတ်မှတ်ရမည့်နေ့သည် (၂၇-၁၂-၂၀၀၂) ဖြစ်ပါမည်။ သို့သော် ရတနာသိဂီ စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်၏စက်ရုံသည် နေရာပြောင်းရွှေ့ဆောင်ရွက်ရသောကြောင့် စီးပွားဖြစ် လုပ်ငန်းစတင်သည့်နေ့အား(၁-၄-၂၀၀၉) ရက်နေ့ သတ်မှတ်နိုင်ရန် (၂၇-၁၀-၂၀၀၉)တွင် ကျင်းပ ပြုလုပ်သည့် မွေးမြူရေးနှင့် ရေလုပ်ငန်း ဝန်ကြီးဌာန စီမံခန့်ခွဲမှု ကော်မတီ၏ (၁၇/၂၀၀၉) ကြိမ်မြောက် အစည်းအဝေးမှ သဘောတူ ခွင့်ပြုကြောင်း ဖော်ပြထားပါသည်။

၄။ သို့ဖြစ်ပါ၍ ရတနာသိဂီ စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်၏ စီပွားဖြစ် စတင်သည့်နေ့အား (၁-၄-၂၀၀၉)ဖြင့် အတည်ပြု မှတ်တမ်းတင်ပေးနိုင်ပါရန် လမ်းညွှန်မှု ခံယူအပ်ပါသည်။

<u>မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်နေသောလုပ်ငန်းများ၏</u>

<u>စီးပွားဖြစ်နေ့သတ်မှတ်ပေးရန် တင်ပြခြင်း</u>

ကော်မရှင်(၄၇/၂၀၀၉)အစည်းအဝေး

| စဥ် | ကုမ္ပဏီအမည်/တည်နေရာ | လုပ်ငန်း အမျိုးအစား | MIC Permit ရသည့်နေ့ | စာချုပ်ချုပ်သည့်နေ့/ BOT ကာလ | တည်ဆောက်မှု ကာလ | စီးပွားဖြစ် စတင်သည့်နေ့ | စီးပွားဖြစ်သတ်မှတ် ပေးသည့်နေ့ | ကွာခြားသည့် ကာလ | မှတ်ချက် |
|---|---|---|---|---|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ | ၈ | ၉ | ၁၀ |
| ၁။ | ရတနာသိင်္ဂီ စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် (Yadanar Theingi Industrial Co.,Ltd.) | ရေထွက်ပစ္စည်း ပြုပြင်အေးခဲခြင်းနှင့် ရေခဲစက်လုပ်ငန်း | မနသ-၅၂၇/၂၀၀၁ (၂၇-၁၂-၂၀၀၁) | ၃၁-၁၀-၂၀၀၃ | (၁) နှစ် | ၂၇-၁၂-၂၀၀၂ | (၁-၄-၂၀၀၉) | (၄)ရက် (၃)လ (၆)နှစ် | |

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ၁ /၂၀၀(ည) / ၅၁၀၀/ ၁ (၁၄၂၄ /၂၀၁၉ )၊
ရက်စွဲ ၂၀၁၉ ခုနှစ်၊ နိုဝင်ဘာလ ( ၃၀ )ရက်။

အကြောင်းအရာ။ ။ **<u>စီးပွားဖြစ်စတင်သည့်ရက် အတည်ပြုသတ်မှတ်ပေးပါရန် တင်ပြခြင်း</u>**

ရည် ညွှန်း ချက်။ ။ (၁) (၁၅-၉-၂၀၁၉)ရက်နေ့တွင် ကျင်းပသည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ( ၃၃ / ၂၀၁၉ ) အစည်းအဝေး။

(၂) ငါးလုပ်ငန်းဦးစီးဌာန ၏ ( ၂၀-၁၁-၂၀၁၉) ရက်စွဲပါစာအမှတ်၊ ငလ / တမ - ၄ / ၂၀၁၉ - ၂၀၁၀ ( ၈၁၁ )။

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ( ၁၅-၉-၂၀၁၉ )တွင် ကျင်းပသော (၃၃ / ၂၀၁၉) ကြိမ်မြောက်အစည်းအဝေးမှ ကော်မရှင်ခွင့်ပြုမိန့်ဖြင့် လုပ်ငန်းဆောင်ရွက်နေသော မွေးမြူရေးနှင့် ရေလုပ်ငန်းဝန်ကြီးဌာနရှိ ရေလုပ်ငန်းကုမ္ပဏီတို့၏ စီးပွားဖြစ်စတင် ရက်သတ်မှတ်ခြင်းမရှိသည့် ကုမ္ပဏီများကို သက်ဆိုင်သည့် ငါးလုပ်ငန်းဦးစီးဌာနမှ ကော်မရှင်သို့ စိစစ်တင်ပြရန် ဆုံးဖြတ်ခဲ့ပါသည်။

၂။ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန ငါးလုပ်ငန်းဦးစီးဌာနပိုင် မြေကိုငှားရမ်း၍ အအေးခန်းနှင့် ရေခဲစက်ရုံလုပ်ငန်းကို လုပ်ကိုင်နေသည့် ရတနာသိင်္ဂီ စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်၏ စီးပွားဖြစ်လုပ်ငန်း စတင်သည့်ရက်အဖြစ် (၁-၄-၂၀၁၉)နေ့အား သတ်မှတ်ပေးနိုင်ပါရန် ငါးလုပ်ငန်း ဦးစီးဌာနမှ ရည်ညွှန်းစာ (၂)ဖြင့် တင်ပြလာပါသည်။

၃။ ရတနာသိင်္ဂီ စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်သည် ရန်ကုန်တိုင်း၊ ရွှေပြည်သာစက်မှုဇုန်(၂)၊ မြေတိုင်းရပ်ကွက် အမှတ်(၁၂၃)ရှိ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနပိုင် မြေ(၁.၆၇၇)ဧက (၆၇၈၅.၅၈) စတုရန်းမီတာတွင် အအေးခန်းနှင့်ရေခဲစက်ရုံ တည်ဆောက်ခွင့်ကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်အမှတ်၊ (မနသ-၅၂၇/၀၁) (၂၇-၁၂-၀၁)ဖြင့် လုပ်ကိုင်ခွင့်ပြုခဲ့ပါသည်။ အဆိုပါမြေပေါ်တွင် အအေးခန်းနှင့်ရေခဲစက်ရုံ တည်ဆောက်ခြင်းလုပ်ငန်းများကို ဆောင်ရွက်နိုင်ခြင်းမရှိကြောင်း တင်ပြပါသည်။

၄။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ ( ၁၀-၁၂-၂၀၁၈ ) နေ့တွင် ကျင်းပသည့် (၃၈/၂၀၁၈)ကြိမ်မြောက် အစည်းအဝေးဆုံးဖြတ်ချက်အရ ရတနာသိင်္ဂီ စက်မှုလုပ်ငန်းကုမ္ပဏီ လီမိတက် (Yadanar Theingi Industrial Co., Ltd) ၏ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် အရပ်ဒေသအား "မြေကွက်အမှတ်(၁၂၃)၊ မြေတိုင်းရပ်ကွက်အမှတ်(၃၉)၊ ရွှေပြည်သာစက်မှုဇုန်(၂)၊ ရန်ကုန်တိုင်း မှ" ငါးလုပ်ငန်းဦးစီးဌာနပိုင်မြေ အမှတ်(၉)၊ ဘုရင့်နောင်လမ်းမ၊ ရန်ကုန်တိုင်း၊ အင်းစိန်မြို့နယ်၊ အနောက်ကြို့ကုန်းရပ်ကွက်" သို့ ပြောင်းရွှေ့လုပ်ကိုင်ခွင့်နှင့် ရင်းနှီးမြှုပ်နှံမှု ပမာဏအား "ကျပ်(၈၀.၀၀)သန်း(ရှစ်ဆယ်သန်း)" မှ "အမေရိကန်ဒေါ်လာ(၁.၀၃)သိန်းအပါအဝင် ကျပ်(၄၇၀.၈၉၆)သန်း( လေးရာခုနစ်ဆယ်သန်း ရှစ်သိန်းကိုးသောင်းခြောက်ထောင်)" သို့ တိုးမြှင့် ခွင့်ပြုခဲ့ပါသည်။

၅။ ရတနာသိင်္ဂီ စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် မှ မူလခွင့်ပြုခဲ့သည့် ရွှေပြည်သာစက်မှုဇုန်မှ ငါးလုပ်ငန်းဦးစီးဌာနပိုင် ရန်ကုန်တိုင်း၊ အင်းစိန်မြို့နယ်၊ အနောက်ကြို့ကုန်းရပ်ကွက်သို့ ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် စက်ရုံမြေနေရာ ပြောင်းရွှေ့ခြင်း၊ ရင်းနှီးမြှုပ်နှံမှုပမာဏတိုးမြှင့်ခြင်း ခွင့်ပြုမိန့်ကို ( ၁၉-၂-၂၀၁၉ ) ရက်နေ့တွင် ထုတ်ပေးခဲ့ပါသည်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်မှု အခြေအနေကို နောက်ဆက်တွဲ(က)ဖြင့် တင်ပြပါသည်။

၆။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် မှ ခွင့်ပြုမိန့်(ပါမစ်) ထုတ်ပေးခဲ့သော (၁၉-၂-၂၀၁၉)၊ နောက်ပိုင်းဖြစ်သည့် ဘဏ္ဍာရေးနှစ်အစဖြစ်သော (၁-၄-၂၀၁၉)ရက်နေ့ကို စီးပွားဖြစ် စတင်သည့် ရက်အဖြစ် သတ်မှတ်သင့်ပါကြောင်း တင်ပြပါသည်။

၇။ ရတနာသိင်္ဂီ စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက် ၏ စီးပွားဖြစ်လုပ်ငန်း စတင်သည့်ရက်အဖြစ် (၁-၄-၂၀၁၉)ရက်နေ့အား သတ်မှတ်နိုင်ရေးအတွက် ငါးလုပ်ငန်းဦးစီးဌာနမှ (၂၇-၁၀-၂၀၁၉)တွင် ကျင်းပပြုလုပ်သည့် မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန၊ စီမံခန့်ခွဲမှုကော်မတီ၏ (၁၇/၂၀၁၉) ကြိမ်မြောက်အစည်းအဝေးသို့တင်ပြခဲ့ရာသဘောတူခွင့်ပြုခဲ့ပါသည်။ အစည်းအဝေးဆုံးဖြတ်ချက်အား နောက်ဆက်တွဲ(ခ)ဖြင့် တင်ပြပါသည်။

၈။ ငါးလုပ်ငန်းဦးစီးဌာနပိုင် ရန်ကုန်တိုင်း၊ အင်းစိန်မြို့နယ်၊ အနောက်ကြို့ကုန်းရှိ မြေကို နှစ်ရှည်ငှားရမ်း၍ အအေးခန်းနှင့်ရေခဲစက်ရုံတည်ဆောက်၍ ငါး/ပုစွန်အမျိုးမျိုးပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်နေသည့် ရတနာသိင်္ဂီ စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက် ၏ စီးပွားဖြစ်လုပ်ငန်း စတင်သည့်ရက်အဖြစ် (၁-၄-၂၀၀၉)နေ့အား အတည်ပြုသတ်မှတ်ပေးနိုင်ပါရန် တင်ပြအပ်ပါသည်။

ဝန်ကြီး(ကိုယ်စား)
( မြတ်ကျော် ၊ ရုံးအဖွဲ့မှူး )

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မိတ္တူ -

(၁) ညွှန်ကြားရေးမှူးချုပ်၊ ငါးလုပ်ငန်းဦးစီးဌာန။

(၂) အုပ်ချုပ်မှုဒါရိုက်တာ၊ ရတနာသိင်္ဂီ စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန
ငါးလုပ်ငန်းဦးစီးဌာန

စာအမှတ်၊ ငလ/တမ-၄/၂၀၀၉-၂၀၁၀ (၈၁၁)
ရက်စွဲ ၊ ၂၀၀၉ခုနှစ်၊ နိုဝင်ဘာလ ၂၀ ရက်

အကြောင်းအရာ။ ။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုမိန့်ဖြင့်လုပ်ငန်းဆောင်ရွက်နေသောရတနာသိဒ္ဓိစက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်၏စီးပွားဖြစ်နေ့တင်ပြခြင်းကိစ္စ။

ရည်ညွှန်းချက်။ ။၂၀၀၉ခုနှစ်၊စက်တင်ဘာလ(၁၅)ရက်နေ့၊နေ့လည်(၁၃း၀၀)နာရီ၊အမျိုးသားစီမံကိန်းနှင့် စီပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန၊ အစည်းအဝေးခန်းမတွင်ကျင်းပသည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်(၃၃/၂၀၀၉)အစည်းအဝေး

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ ရတနာသိဒ္ဓိစက်မှုလုပ်ငန်းကုမ္ပဏီ လီမိတက်သည် ရန်ကုန်တိုင်း၊ ရွှေပြည်သာ၊ စက်မှုဇုန်(၂)၊ မြေတိုင်းရပ်ကွက်အမှတ်(၃၉)၊ မြေကွက်အမှတ်(၁၂၃)ရှိ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနပိုင် မြေ(၁.၆၇၇)ဧက (၆၇၈၅.၅၈)စတုရန်းမီတာတွင် အအေးခန်းနှင့် ရေခဲစက်ရုံတည်ဆောက်ခွင့်ကိုမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်အမှတ် မနသ (၅၂၇/၂၀၀၁) (၂၇.၁၂.၂၀၀၁) ဖြင့် ခွင့်ပြုပေးခဲ့ပါသည်။

၂။ ရတနာသိဒ္ဓိစက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်အနေဖြင့် ဌာနပိုင်၊ အမှတ်(၉)၊ ဘုရင့်နောင်လမ်းမ၊ အနောက်ကြို့ကုန်း၊ အင်းစိန်မြို့နယ်၊ ရန်ကုန်တိုင်းရှိ၊ ယခင် Son Food Co; Ltd မှ ဌာနသို့ပြန်လည် အပ်နှံခဲ့သည့် မြေ (၇၅၀၀စတုရန်းမီတာ) ကိုငှားရမ်း၍ အဆိုပြုလုပ်ငန်းဆောင်ရွက်ရန် တင်ပြခဲ့ရာ (၇.၂.၂၀၀၇)ရက်နေ့တွင် ကျင်းပသည့် ကုန်သွယ်မှုမူဝါဒကောင်စီ၏ (၅/၂၀၀၇) ကြိမ်မြောက် အစည်းအဝေးမှ (၃၁.၁၀.၂၀၀၃)မှ (၃၀.၁၀.၂၀၀၈) ရက်နေ့အထိ ပထမ(၅)နှစ် ငှားရမ်းခြင်းကို သဘောတူခွင့်ပြုခဲ့ပါသည်။

၃။ ရတနာသိဒ္ဓိစက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် မှ မူလ ခွင့်ပြုခဲ့သည့် ရွှေပြည်သာစက်မှုဇုန်မှ ဌာနပိုင်၊ ကြို့ကုန်းနယ်မြေသို့ စက်ရုံမြေနေရာ ပြောင်းရွှေ့ခွင့်နှင့် ရင်းနှီးမြှုပ်နှံမှုပမာဏတိုးမြှင့်ခြင်း၊ စက်ရုံသိုလှောင်မှုပမာဏတိုးမြှင့်ခြင်း တို့ကို ဆက်လက်တင်ပြခဲ့ရာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏(၁၀.၁၂.၂၀၀၈)ရက်နေ့တွင်ကျင်းပသော (၃၈/၂၀၀၈)ကြိမ်မြောက် အစည်းအဝေးမှ သဘောတူခွင့်ပြုခဲ့ပြီး လုပ်ငန်းဆောင်ရွက်ခွင့်၊ ခွင့်ပြုမိန့်ကို (၁၉.၂.၂၀၀၉)ရက်နေ့တွင် ထုတ်ပေးခဲ့ပါသည်။

၄။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့်ပါမစ်ထုတ်ပေးခဲ့သော (၁၉.၂.၂၀၀၉)နောက်ပိုင်းဖြစ်သည့် ဘဏ္ဍာရေးနှစ်အစဖြစ်သော (၁.၄.၂၀၀၉)ရက်နေ့ကို စီးပွားဖြစ် စတင်သည့်နေ့အဖြစ် သတ်မှတ်ခွင့်အား (၂၇.၁၀.၂၀၀၉)ရက်နေ့တွင် ကျင်းပပြုလုပ်သော မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီ၏(၁၇/၂၀၀၉)ကြိမ်မြောက်အစည်းအဝေးမှ သဘောတူခွင့်ပြုခဲ့ပါသည်။

၅။ သို့ဖြစ်ပါ၍ ရတနာသိင်္ဂီစက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်၏ စီးပွားဖြစ်စတင်သည့်နေ့အား (၁.၄.၂၀၀၉)ရက်နေ့အဖြစ် သတ်မှတ်ခြင်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ဆက်လက်တင်ပြပေးနိုင်ပါရန် တင်ပြအပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(ဝင်းသိန်းဦး၊ ညွှန်ကြားရေးမှူး)

**<u>ဝန်ကြီးရုံး</u>**
**<u>မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန</u>**
မိတ္တူကို-
- ရုံးလက်ခံ
- မျှော

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ်(၃၂)၊နေပြည်တော်

Fax -95-67-406333 ဖုံး-၀၆၇-၄၀၆၃၃၄၊၄၀၆၀၇၅

စာအမှတ်၊ ရက-၆(က)/မ-၇၄၆/၂၀၀၉( ၂၂၄၅ )
ရက်စွဲ၊ ၂၀၀၉ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၉ ရက်။

အကြောင်းအရာ။ ရတနာသိင်္ဂီ စက်မှု လုပ်ငန်း ကုမ္ပဏီ လီမိတက် (Yadanar Theingi Industrial Co., Ltd.)မှ စက်ရုံမြေနေရာပြောင်းရွှေ့ခွင့်နှင့် ရင်းနှီးမြှုပ်နှံမှု ပမာဏ တိုးမြှင့်ခွင့် ပြုပါရန် တင်ပြခြင်း။

ရည်ညွှန်းချက် ။ ။ မွေးမြူရေး နှင့် ရေလုပ်ငန်း ဝန်ကြီးဌာန၏ (၂၉-၁-၂၀၀၉) ရက်စွဲပါစာ အမှတ်၊ ၁/၂၀၀ (ည) / ၅၁၀၀/ ၁ (၁၄၈/၂၀၀၉)။

၁။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၀-၁၂-၂၀၀၈) နေ့တွင် ကျင်းပသည့် ( ၃၈ / ၂၀၀၈ )ကြိမ်မြောက် အစည်းအဝေး ဆုံးဖြတ်ချက်အရ ရတနာသိင်္ဂီ စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက် (Yadanar Theingi Industrial Co., Ltd.)၏ ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသအား "မြေကွက်အမှတ်(၁၂၃)၊ မြေတိုင်းရပ်ကွက်အမှတ်(၃၉)၊ ရွှေပြည်သာ စက်မှုဇုန် (၂)၊ ရန်ကုန်တိုင်း" မှ " ငါးလုပ်ငန်းဦးစီးဌာနပိုင်မြေ ၊အမှတ်( ၉ ) ၊ဘုရင့်နောင်လမ်းမ ၊ အနောက်ကြို့ကုန်းရပ်ကွက်၊ အင်းစိန်မြို့နယ်၊ ရန်ကုန်တိုင်း" သို့ ပြောင်းရွှေ့ လုပ်ကိုင်ခွင့်နှင့် ရင်းနှီးမြှုပ်နှံမှု ပမာဏအား "ကျပ် (၈၀.၀၀) သန်း (ရှစ်ဆယ်သန်း) " မှ " အမေရိကန်ဒေါ်လာ (၁.၀၃ ) သိန်း အပါအဝင် ကျပ်(၄၇၀.၈၉၆) သန်း ( လေးရာ့ ခုနစ်ဆယ်သန်း ၊ ရှစ်သိန်း ၊ ကိုးသောင်း ၊ ခြောက်ထောင်)" သို့ တိုးမြှင့်ခွင့် ပြုလိုက်သည်။

၂။ အထက်ပါဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် မှ ထုတ်ပေးခဲ့သော (၂၇-၁၂-၂၀၀၁) ရက်စွဲပါ ခွင့်ပြုမိန့် အမှတ်၊ မနသ- ၅၂၇/၂၀၀၁ တွင် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် အရပ်ဒေသအား "ငါးလုပ်ငန်းဦးစီးဌာနပိုင်မြေ၊ အမှတ်(၉)၊ ဘုရင့်နောင်လမ်းမ ၊ အနောက်ကြို့ကုန်းရပ်ကွက်၊ အင်းစိန်မြို့နယ်၊ ရန်ကုန်တိုင်း"ဟု လည်းကောင်း၊ ရင်းနှီးမြှုပ်နှံမှုပမာဏကို " အမေရိကန် ဒေါ်လာ (၁.၀၃)သိန်း အပါအဝင် ကျပ် ( ၄၇၀.၈၉၆ ) သန်း (လေးရာ့ ခုနစ်ဆယ်သန်း၊ ရှစ်သိန်း၊ ကိုးသောင်း၊ ခြောက်ထောင်)"ဟု လည်းကောင်း ပြင်ဆင်လိုက်သည်။

၃။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် မှထုတ်ပေးခဲ့သော (၂၇-၁၂-၂၀၀၁) ရက်စွဲ ပါ အမိန့်ကြော်ငြာစာအမှတ်၊ ၈၄/၂၀၀၁(မနသ)၏ အပိုဒ် - ၁ တွင် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် အရပ်ဒေသ အား "ငါးလုပ်ငန်းဦးစီးဌာနပိုင်မြေ ၊ အမှတ်(၉)၊ ဘုရင့်နောင်လမ်းမ ၊ အနောက်ကြို့ကုန်း ရပ်ကွက် ၊ အင်းစိန်မြို့နယ် ၊ ရန်ကုန်တိုင်း " ဟူသောစကားရပ်ဖြင့်အစားထိုး သတ်မှတ်လိုက်သည်။

၄။ ထို့ပြင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှထုတ်ပေးခဲ့သော (၂၇-၁၂-၂၀၀၁) ရက်စွဲပါအမိန့်ကြော်ငြာစာအမှတ်၊ ၈၄/၂၀၀၁(မနသ)တွင် အောက်ပါစာပိုဒ်များကို ဖြည့်စွက်ဖော်ပြလိုက်သည်။

စာပိုဒ် - ၉ ရတနာသိင်္ဂီ စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် (Yadanar Theingi Industrial Co., Ltd.) မှ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန၊ ငါးလုပ်ငန်းဦးစီးဌာနနှင့် ချုပ်ဆိုသည့် မြေနှင့်အဆောက်အဦ ငှားရမ်းခြင်း သဘောတူစာချုပ်ပါ စည်းမျဉ်း၊ စည်းကမ်းများအတိုင်း လိုက်နာဆောင်ရွက်ရမည်။

စာပိုဒ် - ၁၀ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် မြေနှင့်အဆောက်အဦအငှားချထားသူ ငါးလုပ်ငန်းဦးစီးဌာနနှင့် အငှားချထားခြင်း ခံရသူ ရတနာသိင်္ဂီ စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက် (Yadanar Theingi Industrial Co., Ltd.) တို့ မြေနှင့် အဆောက်အဦငှားရမ်းစာချုပ်ကို လက်မှတ်ရေးထိုးပြီးသည့်အခါ ယင်း သဘောတူစာချုပ် မိတ္တူ (၅)စောင်ကို ဤကော်မရှင်သို့ လည်းကောင်း၊ မိတ္တူ (၃) စောင် ကို ရှေ့နေချုပ်ရုံးသို့ လည်းကောင်း မပျက်မကွက် ပေးပို့တင်ပြရမည်။

စာပိုဒ် - ၁၁ မြေနှင့်အဆောက်အဦ ငှားရမ်းကာလကို (၅)နှစ် (တစ်)ကြိမ် သက်တမ်းတိုးမြှင့်ခွင့်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ကို ရယူရမည်။

စာပိုဒ် - ၁၂ မြေငှားရမ်းခနှုန်းကို(၅)နှစ်တစ်ကြိမ်ပြန်လည်စိစစ်ရာ၌ပြီးခဲ့သော(၅)နှစ် ကာလ အတွက် နှစ်စဉ် ငှားရမ်းခနှုန်း၏ (၁၅)ရာခိုင်နှုန်း ထက်မပိုစေဘဲ တိုးမြှင့် ပြင်ဆင်ခွင့် ရှိသည်။

စာပိုဒ် - ၁၃ မြေငှားရမ်းကာလ ကုန်ဆုံးသည့် အခါ မြေနှင့် အဆောက်အဦ အပါအဝင် ယင်းနှင့်ဆက်စပ်နေသောပစ္စည်းများ အားလုံးကို ကောင်းမွန်စွာ ပုံမှန်အသုံးပြုနိုင်သည့် အခြေအနေအတိုင်း အဖိုးစားနား မပါဘဲ မွေးမြူရေးနှင့်ရေလုပ်ငန်း ဝန်ကြီးဌာန၊ ငါးလုပ်ငန်းဦးစီးဌာနသို့ ပြန်လည်လွှဲပြောင်း ပေးအပ်ရမည်။

၅။ ရတနာသိင်္ဂီ စက်မှု လုပ်ငန်း ကုမ္ပဏီ လီမိတက် (Yadanar Theingi Industrial Co., Ltd.) အနေဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် မှထုတ်ပေးခဲ့သော (၂၇-၁၂-၂၀၀၁) ရက်စွဲ ပါ အမိန့် ကြော်ငြာစာ အမှတ်၊ ၈၄/၂၀၀၁ (မနသ)ပါ စည်းမျဉ်း စည်းကမ်း များ အတိုင်း လိုက်နာ ဆောင်ရွက် ရမည်။

(သူရိန်ဇော်)

ဥက္ကဋ္ဌ (ကိုယ်စား)

( ဒုတိယ ရဲမှူးကြီး သူရိန်ဇော်၊ အတွင်းရေးမှူး)

အုပ်ချုပ်မှု ဒါရိုက်တာ

ရတနာသိင်္ဂီ စက်မှု လုပ်ငန်း ကုမ္ပဏီ လီမိတက်

<u>ဖြန့်ဝေခြင်း-</u>

၁။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ရုံး။
၃။ အစိုးရ အဖွဲ့ရုံး။
၄။ အမှတ်(၁) စက်မှု ဝန်ကြီးဌာန။
၅။ အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၆။ အလုပ်သမား ဝန်ကြီးဌာန။
၇။ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၈။ ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။
၉။ ဆောက်လုပ်ရေး ဝန်ကြီးဌာန။
၁၀။ ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာန။
၁၁။ လူဝင်မှု ကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၁၂။ အမှတ်(၂) လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန။
၁၃။ မွေးမြူရေးနှင့် ရေလုပ်ငန်း ဝန်ကြီးဌာန။
၁၄။ ပြည်ထဲရေးဝန်ကြီးဌာန။
၁၅။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည် ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့။(ပို့ဆောင်ရေး ဝန်ကြီးဌာန)
၁၆။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၇။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန။
၁၉။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၂၀။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း။
၂၁။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၂၂။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန။
၂၃။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၄။ ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့် အိုးအိမ် ဖွံ့ဖြိုးရေး ဦးစီးဌာန။
၂၅။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန။
၂၆။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၇။ ညွှန်ကြားရေးမှူးချုပ်၊ ငါးလုပ်ငန်း ဦးစီးဌာန။